ကုမ္ပဏီအမည် - i Green Construction Co., Ltd.

လုပ်ငန်း - **အိမ်ရာဆောက်လုပ်ငှားရမ်းရောင်းချခြင်းလုပ်ငန်း**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြည်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၁၃-၁၂-၂၀၁၇ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ၄/၂၀၁၇ သို့ တင်ပြခြင်း | ၁၉-၁၂-၂၀၁၇ | | |
| ၃ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရောဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့ | ၁၃-၁၂-၂၀၁၇ | ပြန်ကြားလာခြင်း မရှိသေးပါ | |
| | (ခ)ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | ၁၃-၁၂-၂၀၁၇ | ပြန်ကြားလာခြင်း မရှိသေးပါ | |
| | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များအရပြင်ဆင်တင်ပြရန် အကြောင်းကြားခြင်း | ၂၆-၁၂-၂၀၁၇ | | |
| | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၂-၁-၂၀၁၈ | | ကော်မတီ ပြင်ဆင် ဖွဲ့စည်း ခြင်း |
| ၄ | ကော်မတီအစည်းအဝေးသို့တင်ပြခြင်း (၁/၂၀၁၈) ARIC | ၁၆-၃-၂၀၁၈ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၉၃ ရက်** | | | |

i Green Construction Co., Ltd. မှ ရာနိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အိမ်ရာဆောက်လုပ်ငှားရမ်းရောင်းချခြင်းလုပ်ငန်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ တင်ပြရန်လိုအပ်သည့်အချက်အလက်များ

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်း အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ တင်ပြရန်လိုအပ်ချက် | ဆောင် ရွက် ပြီးစီးမှု | မှတ် ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | i Green Construction Co., Ltd. | အိမ်ရာ ဆောက်လုပ် ငှားရမ်း ရောင်းချခြင်း လုပ်ငန်း | ၄/၂၀၁၇ (၁၉-၁၂-၂၀၁၇) | (က) Green Zone, Public Space, ကားပတ်လမ်း များဖြင့် Master Plan ပြင်ဆင် တင်ပြရန်။<br>(ခ) သဘာဝပတ်ဝန်း ကျင်စီမံခန့်ခွဲမှုအစီ အစဉ် (Environ- mental Manage- ment Plan-EMP) ရေးဆွဲတင်ပြရန်။<br>(ဂ) Estate Management Team ထားရှိရန်။<br>(ဃ) electricity demand တင်ပြ ပေးရန်။<br>(င) ရေဝတီတိုင်းဒေသ ကြီးတွင် အခွန်ပေး သွင်းရန်။ | လိုက်နာ ဆောင် ရွက်မည် ဖြစ် ကြောင်း တင်ပြ ထားပါ သည်။ | |

အကြောင်းအရာ။ iGreen Construction Co., Ltd. မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အိမ်ရာဆောက်လုပ်ငှားရမ်းရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ အတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br>လုပ်ငန်းအမျိုးအစား | - i Green Construction Co., Ltd.<br>- ဦးအောင်တင်စိုး<br>- ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- အိမ်ရာဆောက်လုပ်ငှားရမ်းရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့နယ်ခွဲ၊ ကွင်းအမှတ် ၁၉၈၈-ပြင်၊ သဇင်-ပြင်ကွင်း၊ ဦးပိုင်အမှတ် ၃၀၅ ရှိမြေ ၂၂.၃၄ ဧက |
| ၃။ | မြေပိုင်ရှင်<br>အကျယ်အဝန်း<br>မြေ/အဆောက်အအုံငှားရမ်းခ<br>မြေ/အဆောက်အအုံငှားရမ်း/အသုံးပြုခွင့်သက်တမ်း | - ဦးအောင်တင်စိုး<br>- မြေဧရိယာ ၂၂.၃၄ ဧက<br>- - |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦးနှစ် ၅၀ (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| ၅။ | တည်ဆောက်မှုကာလ/ပြင်ဆင်မှုကာလ | - တင်ပြထားခြင်းမရှိပါ။ |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ ထည့်ဝင်သည့်အမျိုးအစား | |
| ၇။ | အခြားတင်ပြချက် | (က) လုပ်ငန်းဆောင်ရွက်မည့်မြေနေရာ နှင့်စပ်လျဉ်း၍ လယ်ယာမြေအခြား နည်းအသုံးပြုခွင့်ပုံစံ(၁၅-က)၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်နှင့် သင်းဖွဲ့စည်းမျဉ်းသင်းဖွဲ့မှတ်တမ်းတို့ကို ပူးတွဲတင်ပြထားပါသည်။<br>(ခ) ဝန်ထမ်းခန့်ထားမည့် အစီအစဉ်နှင့် လုပ်ခလစာကိုအောက်ပါအတိုင်းတင်ပြထားပါသည်-<br>**စုစုပေါင်း ၁၂ ဦး** |

Item ၆ breakdown:

| စုစုပေါင်းမတည်ငွေရင်းပမာဏ ထည့်ဝင်သည့်အမျိုးအစား | US$ | ကျပ်(သန်း) | ရာခိုင်နှုန်း |
|---|---|---|---|
| (က)ပြည်တွင်းမှထည့်ဝင်သည့်မတည ငွေရင်းပမာဏ/ရာခိုင်နှုန်း | - | ၂၄၁၈.၆၄ | ၁၀၀% |
| (ခ)နိုင်ငံခြားမှယူဆောင်လာမည့်မတည် ငွေရင်းပမာဏ/ရာခိုင်နှုန်း | - | - | - |
| **စုစုပေါင်း** | - | ၂၄၁၈.၆၄ | - |

| | | |
|---|---|---|
| | | ပြည်တွင်း- ၁၂ ဦး (တစ်လလျှင် ပြည်တွင်းဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၀၈,၀၀၀ ၊အမြင့်ဆုံး လစာမှာ ကျပ် ၄၀၀,၀၀၀ဖြစ်ပါသည်။)<br>ပြည်ပ - ခန့်ထားခြင်းမရှိပါ။ |
| ၈။ | **စိစစ်တင်ပြချက်** | (က)မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ ၁၅/၂၀၁၇ အရ လူနေအိမ်ခန်း အဆောက်အအုံ၊ စုပေါင်းပိုင် အဆောက်အအုံ တည်ထောင်ရောင်းချခြင်း၊ ငှားရမ်းခြင်း လုပ်ငန်းသည် ဖက်စပ်ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်နိုင်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအမျိုးအစားဖြစ်ပါသည်။<br>(ခ) စက်မှုဇုန်နှင့် ဆက်စပ်သည့် စုစုပေါင်းကြမ်းခင်း ဧရိယာ ၅၀,၀၀၀ စတုရန်းမီတာ ရှိသောလူနေအိမ်ခန်း အဆောက်အအုံများနှင့် အများပြည်သူဝယ်နိုင် စွမ်းရှိသော အိမ်ရာများ ဆောက်လုပ် ရောင်းချခြင်းလုပ်ငန်း ဖြစ်ပါကဆောက်လုပ်ရေး ဝန်ကြီးဌာန၏ အတည်ပြုချက်ရယူ ဆောင်ရွက်ရမည်ဖြစ်ပါသည်။<br>(ဂ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၅ (က) အရ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း ပြုလုပ်ရန် လိုအပ်သည့် စီမံကိန်း အမျိုးအစားဖြစ်ခြင်း သို့မဟုတ် ဖြစ်နိုင်ချေရှိခြင်း ဖြစ်ပါက ကော်မရှင်သို့ အဆိုပြုချက် တင်ပြရန် လိုအပ်မည်ဖြစ်ပါသည်။<br>(ဃ) အိမ်ရာ အဆောက်အအုံများ တည်ဆောက်ရောင်းချပြီးဖြစ်ကြောင်း စိစစ်တွေ့ရှိရပြီး အခွန်ကင်းလွတ်ခွင့် သက်သာခွင့် ခံစားနိုင်ခြင်းမရှိပါ။<br>(င) အခွန်ကင်းလွတ်ခွင့်သက်သာခွင့်လျှောက်ထားခြင်းမရှိပါ။<br>(စ) မြေအသုံးပြုခွင့် လျှောက်ထားလွှာပုံစံ (၇-ခ) ပူးတွဲတင်ပြထားပါသည်။<br>(ဆ) ပြည်ပမှလုပ်ငန်းသုံးပစ္စည်းတင်သွင်းခြင်းမရှိပါ။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ်၊ ဧရက/အ-၀၀၉/အိမ်ရာ/၂၀၁၈( ၀၃၄ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဖေဖော်ဝါရီ လ ၈ ရက်

**ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **i Green Construction Co., Ltd. မှ ရခိုင်နှန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အိမ်ရာဆောက်လုပ် ငှားရမ်းရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်းကိစ္စ**

၁။ i Green Construction Co., Ltd. မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့နယ်ခွဲ၊ ကွင်းအမှတ် ၁၉၈၈-ပြင်၊ သဇင်-ပြင်ကွင်း၊ ဦးပိုင်အမှတ် ၃၀၅ ရှိ မြေ ၂၂.၃၄ ဧကတွင် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အိမ်ရာဆောက်လုပ်ငှားရမ်းရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီသို့ တင်ပြလာပါသည်။

၂။ လုပ်ငန်းဆောင်ရွက်မည့်မြေ ၂၂.၃၄ ဧက နှင့်စပ်လျဉ်း၍ လယ်ယာမြေ အခြားနည်း အသုံးပြုခွင့် လယ-၃၀(ခ)၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် နှင့် သင်းဖွဲ့စည်းမျဉ်း သင်းဖွဲ့မှတ်တမ်း တို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်းသက်တမ်း ကာလမှာ ကနဦး နှစ် ၅၀ ဖြစ်ပြီး သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဆောင်ရွက်မည်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ တင်ပြထားခြင်းမရှိပါ။

၄။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ ကျပ်သန်း ၂၄၁၈.၆၄ ဖြစ်၍ အောက်ပါအတိုင်း ထည့် ဝင် မည်ဖြစ်ပါသည်-

| **ရင်းနှီးမြှုပ်နှံမှုပမာဏ** | **ကျပ်(သန်းပေါင်း)** |
|---|---|
| ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်းပမာဏ | ၂၄၁၈.၆၄ |
| နိုင်ငံခြားမှယူဆောင်လာမည့်မတည်ငွေရင်းပမာဏ | - |
| **စုစုပေါင်း** | ၂၄၁၈.၆၄ |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ဦးရေ(၁၂)ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာကျပ် ၁၀၈,၀၀၀ ဖြစ်ပြီးအမြင့်ဆုံးလစာမှာ ကျပ် ၄၀၀,၀၀၀ နှင့် ပြည်ပဝန်ထမ်းခန့်အပ်ထားခြင်းမရှိကြောင်း တင်ပြထားပါသည်။

၆။ ကုမ္ပဏီမှ အောက်ပါအတိုင်း ဝန်ဆောင်မှုပေးမည် ဖြစ်ပါသည်-

| အမျိုးအစား | အတိုင်းအတာ | အရေအတွက်(လုံး) |
|---|---|---|
| R.C (၁ ထပ်) | ပေ (၂၄× ၂၄) | ၁၀၄ |
| R.C (၁ ထပ်) | ပေ (၂၄× ၃၈) | ၂၈ |

| | | |
|---|---|---|
| R.C (၁ ထပ်) | ပေ (၂၄× ၃၆) | ၃ |
| R.C (၁ ထပ်) | ပေ (၃၄× ၂၄) | ၁ |
| R.C (၁ ထပ်) | ပေ (၂၅× ၄၀) | ၁ |
| R.C (၁ ထပ်) | ပေ (၃၆× ၃၀) | ၁ |
| R.C (၂ ထပ်) | ပေ (၂၄× ၂၄) | ၁ |
| R.C (၂ ၁/၂ ထပ်) | ပေ (၃၀× ၄၅) | ၁ |
| စုစုပေါင်း | | ၁၄၀ |

၇။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ တစ်ဖက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ i Green Development Engineering Group မှဆောင်ရွက်မည့် စီမံကိန်းနှင့်စပ်လျဉ်း၍ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန(ရုံးချုပ်)၊ နေပြည်တော်၏ သဘောထားမှတ်ချက်အရ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် ပြန်ကြားထားပါသည်။ နောက်ဆက်တွဲ(က)

(ခ) **ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန(ရုံးချုပ်)၊ နေပြည်တော်** မှ i Green Development Engineering Group မှဆောင်ရွက်မည့် စီမံကိန်းအားပြန်လည်ရေးဆွဲပြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ၊ ဧရာဝတီတိုင်းဒေသကြီးမှခွင့်ပြုပါကကန့်ကွက်ရန်မရှိကြောင်းပြန်ကြားထားပါသည်။ နောက်ဆက်တွဲ(ခ)

(ခ) **ဧရာဝတီတိုင်းဒေသကြီးပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန**မှ ၄/၂၀၁၇ တိုင်းဒေသကြီးအဆိုပြုချက်အစည်းအဝေးတွင် အဆိုပြုလုပ်ငန်းအနေဖြင့် သဘာဝပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်(Environmental Management Plan-EMP) ကိုရေးဆွဲတင်ပြရမည်ဖြစ်ကြောင်း၊ အိမ်ရာများရောင်းချပြီးနောက်လည်း ကုမ္ပဏီအနေဖြင့် EMP ကို Regularly ဆက်လက်ဆောင်ရွက်သွားရမည်ဖြစ်ကြောင်းမှတ်ချက်ပြုထားပါသည်။

၈။ ငွေကြေးအထောက်အထားအဖြစ် ဒါရိုက်တာ ဦးအောင်တင်စိုးအမည်ဖြင့် United Amara Bank Ltd. ၌ ၂၀၁၇ ခုနှစ် ဒီဇင်ဘာလ ၁၂ ရက်နေ့ ရက်စွဲဖြင့် ကျပ်(-၄၅၅၂၈၀၂၈၈၁.၂၉) ရှိကြောင်း တင်ပြထားပါသည်။

၉။ i Green Construction Co., Ltd. မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးအစီအစဉ်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး စီမံဆောင်ရွက်မည့် အစီအစဉ် တင်ပြထားပြီး CSR အစီအစဉ်တွက် အသားတင်အမြတ်၏ ၂ % ကို အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၀။ **စိစစ်တင်ပြချက်**

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ ၁၅/၂၀၁၇ အရ လူနေအိမ်ခန်း အဆောက်အအုံ၊ စုပေါင်းပိုင် အဆောက်အအုံ တည်ထောင်ရောင်းချခြင်း၊ ငှားရမ်းခြင်း လုပ်ငန်းသည် ဖက်စပ်ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်နိုင်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

(ခ) စက်မှုဇုန်နှင့် ဆက်စပ်သည့် စုစုပေါင်းကြမ်းခင်း ဧရိယာ ၅၀,၀၀၀ စတုရန်းမီတာ ရှိသောလူနေအိမ်ခန်း အဆောက် အအုံများနှင့် အများပြည်သူဝယ်နိုင် စွမ်းရှိသော အိမ်ရာများ ဆောက်လုပ်ရောင်းချခြင်းလုပ်ငန်း ဖြစ်ပါကဆောက်လုပ်ရေး ဝန်ကြီးဌာန၏ အတည်ပြုချက်ရယူ ဆောင်ရွက်ရမည်ဖြစ်ပါသည်။

(ဂ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၅ (က) အရ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း ပြုလုပ်ရန် လိုအပ်သည့် စီမံကိန်း အမျိုးအစားဖြစ်ခြင်း သို့မဟုတ် ဖြစ်နိုင်ချေရှိခြင်း ဖြစ်ပါက ကော်မရှင်သို့ အဆိုပြုချက် တင်ပြရန် လိုအပ်မည်ဖြစ်ပါသည်။

(ဃ) အိမ်ရာ အဆောက်အအုံများ တည်ဆောက်ရောင်းချပြီးဖြစ်ကြောင်း စိစစ်တွေ့ရှိရပြီး အခွန်ကင်းလွတ်ခွင့် သက်သာခွင့် ခံစားနိုင်ခြင်းမရှိပါ။

(င) အခွန်ကင်းလွတ်ခွင့်သက်သာခွင့်လျှောက်ထားခြင်းမရှိပါ။

(စ) မြေအသုံးပြုခွင့်လျှောက်ထားလွှာပူးတွဲတင်ပြထားပါသည်။

(ဆ) ပြည်ပမှလုပ်ငန်းသုံးပစ္စည်းတင်သွင်းခြင်းမရှိပါ။

**ဆုံးဖြတ်ရန်အချက်**

၁၁။ i Green Construction Co., Ltd. မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့နယ်ခွဲ၊ ကွင်းအမှတ် ၁၉၈၈-ပြင်၊ သဇင်-ပြင်ကွင်း၊ ဦးပိုင်အမှတ် ၃၀၅ ရှိ မြေ ၂၂.၃၄ ဧကတွင် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အိမ်ရာဆောက်လုပ်ငှားရမ်းရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုရန် သဘောတူ-မတူ။

8/3/2018

ဥက္ကဋ္ဌ(ကိုယ်စား)
(စိုးအောင်၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ



နောက်ဆက်တွဲ - (က)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ဧရာဝတီတိုင်းဒေသကြီး**

စာအမှတ်၊ ၄၀၀/ ၄ - ၈( ဓ )/ အစိုးရ (ဧရာဝတီ)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မတ်လ ၆ ရက်

သို့

အတွင်းရေးမှူး
ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
(ညွှန်ကြားရေးမှူး၊ ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန)
ပုသိမ်မြို့

အကြောင်းအရာ။ **Lake View အိမ်ရာစီမံကိန်းလုပ်ငန်း အကောင်အထည်ဖော်ဆောင်ရွက်မှုအား သဘောထားမှတ်ချက်ပေးပို့လာသည့်ကိစ္စ**

၁။ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့၊ သဖင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၉၈၈)၊ သဖင်ပြင်ကွင်း၊ ဦးပိုင်အမှတ်(၃၀၅)၊ မြေဧရိယာ (၂၂.၃၄) ဧကအား Lake View Recreation Zone နှင့် အိမ်ရာစီမံကိန်းအဖြစ် လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရန်ကိစ္စနှင့် ပတ်သက်၍ I Green Construction Co.,Ltd မှ ဧရာဝတီတိုင်းဒေသကြီးမြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေး ဦးစီးဌာနသို့ သဘောထားမှတ်ချက်ပြုပေးနိုင်ပါရန် တင်ပြလာမှုအပေါ် မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေး ဦးစီးဌာန (ရုံးချုပ်)၊ နေပြည်တော်သို့ ဆက်လက်တင်ပြခဲ့ရာ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည် -

(က) I Green Development & Engineering Group မှ ဆောင်ရွက်မည့် စီမံကိန်း နေရာသည် မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနမှ ရေးဆွဲထားသည့် **"ငွေဆောင်မြို့ ပတ်ဝန်းကျင်ဒေသ လူမှုစီးပွားဘဝဖွံ့ဖြိုးတိုးတက်ရေးနှင့် ကမ်းခြေသာယာ လှပရေး အဆိုပြုသဘောထားပုံစံ"** ပါ မြို့ပြဧရိယာ၏ ပြင်ပတွင်တည်ရှိ၍ ဟိုတယ် နှင့် ခရီးသွားလာရေးဝန်ကြီးဌာနမှ ရေးဆွဲထားသည့် Ngwe Saung Beach Master Plan ၏ ပြင်ပတွင်တည်ရှိနေပြီး အဆိုပြု Lake Town Area နှင့် တစ်ဆက်တည်း တည်ရှိနေကြောင်း၊

(ခ) အဆိုပါစီမံကိန်းအား ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန၏ Lake Town Area နှင့် လိုက်လျောညီထွေစွာ အကောင်အထည်ဖော်ရန် လိုအပ်သည့်အပြင် လမ်းကွန်ရက်စနစ်ကိုလည်း ဆက်စပ်ဖောက်လုပ်ရန် လိုအပ်ကြောင်း၊

(ဂ) အဆိုပြုစီမံကိန်းမြေနေရာသည် ယခင်ကငါးကန်အဟောင်းများ တည်ရှိခဲ့သော နေရာ ဖြစ်သောကြောင့် မြေအောက်ရေ ထုတ်ယူသုံးစွဲမည်ဆိုပါက မြေအောက်ရေ အရည်အသွေးကို အထူးအလေးအနက်ထား၍ စိစစ်ဆောင်ရွက်ရန် လိုအပ်ကြောင်း၊

(ဃ) အဆိုပါဆောင်ရွက်ရမည့် လုပ်ငန်းများကို ဆောင်ရွက်ပေးရန်နှင့် ရောဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီမှ ခွင့်ပြုပါက မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း၊

၂။ သို့ဖြစ်ပါ၍ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန (ရုံးချုပ်)၊ နေပြည်တော်၏ သဘောထားမှတ်ချက်အား သိရှိနိုင်ပါရန်နှင့် လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် အကြောင်းကြားပါသည်။

၉၊၂၊၁၈

ဝန်ကြီးချုပ်( ကိုယ်စား )

(ငွေးဝင်း၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး)

မိတ္တူကို

I Green Development & Engineering Group

လှည့်လည်စာတွဲ

ရုံးလက်ခံ